**အကြောင်းအရာ။** **ရခိုင်နူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd. တည်ထောင်၍ တိရိစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြု ပါရန် အဆိုပြု တင်ပြလာ ခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်၊ ကမကထပြုသူ | - Sunjin Myanmar Co.,Ltd.<br>- Mr. Lee, Byung Ha (Korea) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>-Sunjin Co.,Ltd. (Korea) ၁၀၀% |
| | လုပ်ငန်းအမျိုးအစား | - တိရိစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ညောင်အင်းကျေးရွာ၊ ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ် (၂၅) |
| | မြေပိုင်ရှင် | - ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ |
| | မြေအကျယ်အဝန်း | - ၄.၅၀ဧက (၁၈,၂၁၁ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေနှင့် ငှားရမ်းခ နှုန်းထား | - ပထမ ၁၀နှစ် တွင် တစ်နှစ်လျှင် တစ်စတုရန်းမီတာ US$ ၂.၅၀ နှုန်း<br>- ဒုတိယ ၁၀နှစ် တွင် တစ်နှစ်လျှင် တစ်စတုရန်းမီတာ US$ ၃.၀၀ နှုန်း<br>- တတိယ ၁၀နှစ် တွင် တစ်နှစ်လျှင် တစ်စတုရန်းမီတာ US$ ၃.၅၀ နှုန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ်(သက်တမ်းတိုး၁၀နှစ်၂ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၇.၀၀ သန်း (ချေးငွေ US$ ၄.၀၀ သန်း အပါအဝင်) |
| | ထည့်ဝင်သည့် အမျိုးအစား | US$ (သန်း) |
| | ငွေသား | - ၄.၃၇ |
| | စက်နှင့် စက်ပစ္စည်းတန်ဖိုး | - ၂.၂၁ |
| | အဆောက်အဦးတန်ဖိုး | - ၀.၄၂ |
| | **စုစုပေါင်း** | ၇.၀၀ |
| ၆။ | ဝန်ထမ်းအင်အား | - **၁၁၀** |
| | ပြည်တွင်း | - ၁၀၈ ဦး (အမြင့်ဆုံးလစာမှာ US$ ၁၀၈၃ နှင့် အနိမ့်ဆုံး လစာမှာUS$ ၁၀၈ ဖြစ်ကြောင်း ဖော်ပြထား ပါသည်။) |
| | ပြည်ပ | - ၂ ဦး (တစ်လလျှင် US$ ၇၀၀၀ ဖြစ်ကြောင်း ဖော်ပြထားပါသည်။) |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့် နည်းစနစ် | - ၁၀၀% ပြည်တွင်းရောင်းချမည်ဖြစ်ပါသည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေပုံမှန်နှစ် (ဆဋ္ဌမနှစ်မြောက် )<br>အသားတင်အမြတ်(ပုံမှန်နှစ်)<br>(ဆဋ္ဌမနှစ်မြောက် ) | - အမေရိကန်ဒေါ်လာ ၃၁.၅၇၃ သန်း<br>- အမေရိကန်ဒေါ်လာ ၁.၆၂၈ သန်း |
| ၉။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ်(ဆဋ္ဌမနှစ်မြောက် )<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | <br><br>- အမေရိကန်ဒေါ်လာ ၁.၅၀၃ သန်း<br>- အမေရိကန်ဒေါ်လာ ၀. ၅၄၃ သန်း<br>- ၆ နှစ် ၆ လ<br>- ၂၀% |
| ၁၀။ | လျှပ်စစ်ဓာတ်အားသုံးစွဲမှု | - လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ် (လိုအပ်ပါက ၄၈၀,၀၀၀ KVH ကိုပါ အားဖြည့်သုံးစွဲ မည်ဖြစ်ပါ ကြောင်း) တင်ပြထားပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၁/န-၈၅၄/၂၀၁၃ (၉၅၆၀-၈)
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd. တည်ထောင်၍ တိရိစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားနိုင်ငံ Sunjin Co.,Ltd. မှ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd. တည်ထောင်၍ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ညောင်အင်းကျေးရွာ၊ ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ် (၂၅) ရှိ ၄.၅ ဧက (၁၈,၂၁၁ စတုရန်းမီတာ) ကို ငှားရမ်းကာ တိရိစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် အတူ မြေပိုင်ရှင် ပဲခူးတိုင်းဒေသကြီးအစိုးရနှင့် မြေငှားရမ်းသူ Sunjin Myanmar Co.,Ltd.တို့ ချုပ်ဆိုထားသော မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း)၊ ငွေချေးငှားသူ မိခင်ကုမ္ပဏီ Sunjin Co.,Ltd. နှင့် ငွေချေးယူသူ Sunjin Myanmar Co.,Ltd. တို့ ချုပ်ဆိုမည့် Loan Agreement (မူကြမ်း)၊ လုပ်ငန်းတည်နေရာပြမြေပုံများကို တင်ပြထားပါ သည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေနှင့် အဆောက်အဦ ဧရိယာမှာ ၁၈,၂၁၁ စတုရန်းမီတာ (၄.၅၀ဧက)ဖြစ်ပြီး မြေငှားရမ်းခမှာ ပထမ ၁၀နှစ် တွင် တစ်နှစ်လျှင် တစ်စတုရန်းမီတာ US$ ၂.၅၀ နှုန်း၊ ဒုတိယ ၁၀နှစ် တွင် တစ်နှစ်လျှင် တစ်စတုရန်းမီတာ US$ ၃.၀၀ နှုန်း နှင့် တတိယ ၁၀နှစ် တွင် တစ်နှစ်လျှင် တစ်စတုရန်းမီတာ US$ ၃.၅၀ နှုန်း တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး (၅၀)နှစ်နှင့် (၁၀)နှစ် နှစ်ကြိမ် သက်တမ်းတိုးမြှင့်မည် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၇.၀၀ သန်း (ချေးငွေ ၄.၀၀ သန်း ပါဝင်ပါသည်။) ဖြစ်ပြီး ငွေသား US$ ၄.၃၇ သန်း၊ စက်နှင့် စက်ပစ္စည်းတန်ဖိုး (ပြည်ပ) US$ ၂.၂၁ သန်း၊ အဆောက်အဦတန်ဖိုး US$ ၀.၄၂ သန်း တို့ ပါဝင်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၁၀၈)ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ (၂)ဦး စုစုပေါင်း (၁၁၀)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၀၈၃ ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၀၈ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်း၏ လစာမှာ အမေရိကန်ဒေါ်လာ ၇,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းသည် ပြည်တွင်း ၁၀၀% ရောင်းချမည်ဖြစ်ပြီး နှစ်စဉ် ပုံမှန်ထုတ်လုပ်မှုနှင့်ရောင်းချမှု (ဆဋ္ဌမနှစ်) တန်ဖိုးများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | နှစ်စဉ်ထုတ်လုပ်မှု (ပုံမှန်နှစ်)(ဆဋ္ဌမနှစ်) | အရေအတွက် (Ton) | ဈေးနှုန်း (USD/Ton) |
|---|---|---|---|
| (က) | Layer Feed | ၂၁,၀၀၀ | ၄၃၆ |
| (ခ) | Broiler Feed | ၃၂,၀၀၀ | ၅၅၈ |
| (ဂ) | Swine Feed | ၅,၀၀၀ | ၄၅၃ |
| (ဃ) | Dairy Feed | ၂,၀၀၀ | ၄၀၃ |
| | **စုစုပေါင်း** | **၆၀,၀၀၀** | |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမနှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်မှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃၀.၅၇၃ |
| (ခ) | အသုံးစရိတ် | ၂၉.၉၄၅ |
| (ဂ) | အသားတင်အမြတ် | ၁.၆၂၈ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်(ဆဋ္ဌမနှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၅၄၃ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၁.၅၀၃ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလ မှာ ၆နှစ် ၆လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၀% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ Sunjin Myanmar Co.,Ltd.မှ စက်ရုံတည်ဆောက်လိုကြောင်း လျှောက်ထားလာသည့်အပေါ် ပဲခူးတိုင်းဒေသကြီးမှ မြေငှားရမ်း၍ ဆောက်လုပ်ခွင့်ပြုရန် သဘောတူပါသဖြင့် ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုနိုင်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ** အိတ်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းအဆင့်ဆင့် တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများထည့်သွင်း ဆောင်ရွက်ရန်၊ စီမံကိန်းလုပ်ဆောင်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) လုပ်ငန်းကို ကုမ္ပဏီနှင့် ပါဝင်ပတ်သက်ခြင်းမရှိသည့် ဘာသာရပ်ဆိုင်ရာ ကျွမ်းကျင်ပညာရှင်များ ပါဝင်သော တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းဖြင့် ဆောင်ရွက်၍ အစီရင်ခံစာ တင်ပြပြီးမှ စိစစ်ခွင့်ပြုရန်၊ အဆိုပါ စိစစ်တွေ့ရှိချက် များအပေါ် အခြေခံ၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို အသေးစိတ် ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ လုပ်ငန်းခွင်လေကောင်းလေသန့် ရရှိရေး၊ ပတ်ဝန်းကျင် သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်ထားရှိရန်နှင့် စက်ရုံပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များနှင့် ပန်းအလှပင်များ စိုက်ပျိုးထားရှိရန်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သက်ဆိုင်ရာဝန်ကြီးဌာနအသီးသီး တို့မှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားလာရာ **ကုမ္ပဏီမှလိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက် တင်ပြထားပါသည်။** **နောက်ဆက်တွဲ-ခ**

(ဂ) **မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေး ဝန်ကြီးဌာနမှ** အာဆီယံနိုင်ငံများ၏ သတ်မှတ်ချက်များနှင့် အညီ (G.M.P) စနစ်ဖြင့်ဆောင်ရွက်နိုင်ပါက မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန မှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေကြေးအထောက်အထားအဖြစ် ကိုရီးယားနိုင်ငံ HANA Bank တွင် (၇- ၁-၂၀၁၃) ရက်စွဲဖြင့် US$ ၈,၄၅၇,၈၅၁.၇၁ ရှိကြောင်း နှင့် ကိုရီးယားနိုင်ငံ WOORI Bank တွင် US$ ၃၄၇,၄၇၀.၂၁ စာရင်းကို လည်းကောင်း တင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းတွင် US$ ၄ သန်းကို အတိုးနှုန်း ( ၇ % ) ဖြင့် မိခင် ကုမ္ပဏီထံမှ ချေးယူမည်ဖြစ်ပြီး ၅နှစ်မြောက်မှ စ၍ ၄နှစ် အတွင်း အကြေပေးဆပ်မည် ဖြစ်ကြောင်း၊ လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ် တွင် ၄၈၀,၀၀၀ KWh ကိုပါ အား ဖြည့်သုံးစွဲမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ လုပ်ခလစာဝင်ငွေခွန် ထမ်းဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ မီးဘေးကြိုတင် ကာကွယ်ရေးအတွက် စီမံချက်တို့ကို တင်ပြထားပါသည်။ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်ထားမှု အခြေအနေနှင့် စက်ရုံဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် စီစဉ်ဆောင်ရွက် ထားမှုတို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၁/၂၀၁၃ ဖြင့် ထုတ်ပြန်ထားသည့် အခြားခွင့်ပြုချက်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေး လုပ်ငန်းအမျိုးအစားများစာရင်း တွင် တိရစ္ဆာန်မွေးမြူဖြည့်စွက် အစားအစာများ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းတွင် (Good Manufacturing Practice(GMP)ဖြင့် ဆောင်ရွက်နိုင်သူဖြစ်ရမည်) အမျိုးအစားစာရင်းတွင် ပါဝင်ပါသည်။

၁၅။ သို့ဖြစ်ပါ၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd. တည်ထောင်၍ တိရိစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

ကန့်သတ်

၅

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **Sunjin Myanmar Co.,Ltd.** | (၁)Mr. Lee, Byung Ha<br>Director<br>Korea<br>M 15418425 | 401-1203, Bangbae I- PARK Apt., Dongkwang-ro 3-18, Seocho-gu, Korea |
| | | (၂) Mr. Kang, Hee Il<br>Director<br>Korea<br>M 02769900 | 305-506, Sangyong Apt., Garak-dong, Songpa-gu, Seoul, Korea |
| | | (၃)Mr. Lee, Bum Kwon<br>Director<br>Korea<br>SM 0199116 | Michelan Shervile, D-ding 1606-ho, Jeongja-dong, Bundang-gu, Seongnam-Si, Kyungki-Do, Korea |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၇၃၁၇၄၉၅၈

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်ဝင်းသန့်အေး

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - တိရိစ္ဆာန် အစားအစာနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်း ချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

ပဲခူးတိုင်းဒေသကြီး

စာအမှတ်၊ ၇ / ၁ - ၂၀ / ထောက် ၃

ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ၊ ဇွန်လ ၁၈ ရက်

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **Sunjin Myanmar Co., Ltd ရင်းနှီးမြှုပ်နှံမှု ခွင့်ပြု ထောက်ခံတင်ပြခြင်း**

ကိုရီးယားနိုင်ငံအခြေစိုက် Sunjin Myanmar Co., Ltd မှ ပဲခူးတိုင်းဒေသကြီး၊ ပြည်ပစက်မှုနယ်မြေအတွင်း မြေဧရိယာ(၄.၅)ဧကငှားရမ်း၍ စက်ရုံတည်ဆောက်လိုကြောင်း လျှောက်ထားလာသည့်အပေါ် ပဲခူးတိုင်းဒေသကြီးမှ မြေငှားရမ်း၍ ဆောက်လုပ်ခွင့်ပြုရန် သဘောတူပါသဖြင့် ရင်းနှီးမြှုပ်နှံ မှု ခွင့်ပြုနိုင်ပါရန် ထောက်ခံတင်ပြပါသည်။

၁၈.၆

ဝန်ကြီးချုပ်(ကိုယ်စား)
ဦးကျော်မြင့်၊ ဝန်ကြီး
စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန
ပဲခူးတိုင်းဒေသကြီး

မိတ္တူ
Sunjin Myanmar Co., Ltd ကိုရီးယားနိုင်ငံ
မျှောစာတွဲ
လက်ခံစာတွဲ

2516
2248

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၆)/(၅၅၁၄ /၂၀၁၃)
ရက်စွဲ ၂၀၁၃ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ Sunjin Myanmar Co., Ltd. မှ တိရစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်းများထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၈-၇-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက - ၆ (ခ) / န - ၈၅၄ / ၂၀၁၃ (၇၉၉၁-ကာ)

(၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ၂၆-၇-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၂ /၂၃၀ (ဂ) (၃) / (၄၇၉၈/၂၀၁၃)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကိုရီးယားနိုင်ငံ Sunjin Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Sunjin Myanmar Co.,Ltd. တည်ထောင်၍ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ညောင်အင်းကျေးရွာ၊ ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ် (၂၅) ရှိမြေ (၄.၅)ဧက (၁၈.၂၁၁ စတုရန်းမီတာ) ၌ တိရစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် သဘောထား ပြန်ကြားပြီး ဖြစ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာအား စိစစ်ရာတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံခွင့် လျှောက်ထားခြင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးလုပ်ငန်းများ ဆောင်ရွက်မည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်းကို ကုမ္ပဏီမှပညာရှင်နှင့် အင်ဂျင်နီယာများဖြင့် ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု လျော့နည်းစေရေး ဆောင်ရွက်မည့် အစီအစဉ်များ၊ စွန့်ပစ်ရေ၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်များ၊ ဓာတုပစ္စည်းများအား သိုလှောင်သိမ်းဆည်းမည့်အစီအစဉ်များ၊ စီမံကိန်းနှင့်သက်ဆိုင်သည့် ဥပဒေ၊ နည်းဥပဒေများအား လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သို့ရာတွင် စီမံကိန်း

ကြောင့် ပတ်ဝန်းကျင်ထိခိုက်နိုင်မှုများဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများအား အသေးစိတ်အစီအစဉ်များ ရေးဆွဲထားခြင်း မရှိကြောင်းစီစစ်တွေ့ရှိရပါသည်။

၃။ တိရစ္ဆာန်အစာ ထုတ်လုပ်သည့်စက်ရုံတည်ဆောက်ခြင်း နှင့် စက်ရုံလည်ပတ်ခြင်းကြောင့် ထွက်ရှိမည့်စွန့်ပစ်ပစ္စည်း၊ အခိုးအငွေ့များနှင့် ဖုန်မှုန့်များကြောင့် မြေထု၊ လေထုညစ်ညမ်းမှု၊ ထုတ်ပိုးပစ္စည်းများသည် ပလပ်စတစ်ကိုအခြေခံသည့် ပစ္စည်းများဖြစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများအား စနစ်တကျသိုလှောင်မှုမရှိပါက အနံ့အသက်များထွက်ရှိ၍ ပတ်ဝန်းကျင်ရှိပြည်သူများအား အနှောင့်အယှက်ဖြစ်ပေါ်စေနိုင်မှု စသည့် ပတ်ဝန်းကျင်ဆိုင်ရာ ပြဿနာများဖြစ်ပေါ်နိုင်ပါသည်။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကိုရီးယားနိုင်ငံ Sunjin Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Sunjin Myanmar Co.,Ltd. တည်ထောင်၍ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ညောင်အင်းကျေးရွာ၊ ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ် (၂၅) ရှိမြေ (၄.၅)ဧက (၁၈.၂၁၁ စတုရန်းမီတာ) ၌ တိရစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလွှာပါ လုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် အစီအစဉ်များ ရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန်၊

(ခ) အဆိုပြုစီမံကိန်းလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေးနှင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) လုပ်ငန်းကို ကုမ္ပဏီနှင့် ပါဝင်ပတ်သက်ခြင်းမရှိသည့် ဘာသာရပ်ဆိုင်ရာ ကျွမ်းကျင်ပညာရှင်များ ပါဝင်သော တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းဖြင့်ဆောင်ရွက်၍ အစီရင်ခံစာ တင်ပြပြီးမှ စိစစ်ခွင့်ပြုပါရန်၊

(ဂ) အဆိုပါ ဆန်းစစ်တွေ့ရှိချက်များကိုအခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့်အစီအမံများပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan–EMP) ရေးဆွဲတင်ပြရန်နှင့် အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) လုပ်ငန်းခွင် လေကောင်းလေသန့်ရရှိရေး၊ ပတ်ဝန်းကျင်သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်ထားရှိရန်နှင့် စက်ရုံပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များနှင့်ပန်းအလှပင်များ စိုက်ပျိုးထားရှိရန်၊

(င) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သက်ဆိုင်ရာဝန်ကြီး ဌာနအသီးသီးတို့မှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုး ဝင်း ရုံး အဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊၁/၂၀၀(ည)/နပတ/၃၀၁၀/ ၃၅၈၈
ရက်စွဲ၊၂၀၁၃ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်

**အကြောင်းအရာ။** **Sunjin Myanmar Co.,Ltd တိရစ္ဆာန်အစားအစာနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈-၇-၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ရက-ဖ(ခ)/၈၅၄/၂၀၁၃(၇၉၉၁)-တ

၁။ ကိုးရီးယားနိုင်ငံ Sunjin Myanmar Co.,Ltd မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd တည်ထောင်၍ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ညောင်အင်းကျေးရွာ၊ ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ်(၂၅)ရှိ (၄.၅) ဧက၊ (၁၈,၂၁၁ စတုရန်းမီတာ)ကို ငှားရမ်းကာတိရစ္ဆာန်အစားအစာနှင့်ဆက်စပ်ပစ္စည်းများထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ကုမ္ပဏီ၏တင်ပြချက်အပေါ် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါ စာဖြင့်အကြောင်းကြားလာပါသည်။

၂။ Sunjin Myanmar Co.,Ltd မှ လုပ်ငန်းအဆိုပြုချက်နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

| | | |
|---|---|---|
| (က) အဆိုပြုသည့် ကုမ္ပဏီ | - | Sunjin Myanmar Co.,Ltd |
| (ခ) ဆောင်ရွက်မည့်လုပ်ငန်း | - | တိရစ္ဆာန်အစားအစာနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း |
| (ဂ) လုပ်ငန်းတည်နေရာ | - | ပဲခူးတိုင်း၊ ပဲခူးမြို့နယ်၊ညောင်အင်းကျေးရွာ၊ ပြည်ပစက်မှုနယ်မြေ၊မြေကွက်အမှတ်(၂၅)၊(၄.၅)ဧက၊ (၁၈,၂၁၁ စတုရန်းမီတာ) |

(ဃ) ရင်းနှီးမြှုပ်နှံမှုပမာဏ - အမေရိကန်ဒေါ်လာ ( ၇ သန်း)
(င) ရင်းနှီးမြှုပ်နှံမှုကာလ - (၅၀ ) နှစ်
(စ) အဆောက်အဦ ဆောက်လုပ်မည့်ကာလ - ( ၂ ) နှစ်
(ဆ) အရင်းကျေကာလ - ( ၅ ) နှစ် ( ၁၁ ) လ
(ဇ) မြေငှားရမ်းခနှုန်း - ပထမ(၁၀)နှစ် တစ်စတုရန်းမီတာ( ၂.၅ US$ )
- ဒုတိယ(၁၀)နှစ်တစ်စတုရန်းမီတာ( ၃.၀ US$ )
တတိယ(၁၀)နှစ်တစ်စတုရန်းမီတာ( ၃.၅ US$ )
(ဈ) ဝန်ထမ်းအင်အား - စုစုပေါင်း (၁၁၀) ဦး
ပြည်တွင်း (၁၀၈) ဦး၊ပြည်ပ (၂) ဦး

၃။ Sunjin Myanmar Co.,Ltdမှတိရစ္ဆာန်အစားအစာနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန် ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ထောက်ခံချက်ပါရှိပါသည်။ နောက်ဆက်တွဲ(က)

၄။ ကုမ္ပဏီမှပဲခူးတိုင်းဒေသကြီး ပြည်ပစက်မှုဇုန်နယ်မြေတွင် (၄.၅) ဧက ငှားရမ်းပြီးစက်ရုံဆောက်လုပ်မည့်မြေနေရာသည် ပဲခူးတိုင်းဒေသကြီး၊ အစိုးရအဖွဲ့ပိုင်မြေနေရာဖြစ်သဖြင့် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Sunjin Myanmar Co.,Ltd တို့ မြေငှားရမ်းခြင်းသဘောတူစာချုပ်ချုပ်ဆိုနိုင်ရေးအတွက် စာချုပ်မူကြမ်းအားပူးတွဲ တင်ပြထားပါသည်။ နောက်ဆက်တွဲ(ခ)

၅။ ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းကို ရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာသန်း(၇)နှင့်ညီမျှသောမြန်မာငွေကျပ်(၆၅၈၀)သန်းထည့်ဝင်ဆောင်ရွက်မည်ဖြစ်ပြီး စက်ရုံမှထွက်ရှိသည့်ကုန်ချောများကိုပြည်တွင်း၌ (၁၀၀%) တင်ပို့ရောင်းချမည်ဖြစ်ပါသည်။

၆။ Sunjin Myanmar Co.,Ltd၏ ငွေကြေးခိုင်မာမှုအထောက်အထား သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ စက်ရုံတည်နေရာပြမြေပုံတို့အား တင်ပြအပ်ပါသည်။ နောက်ဆက်တွဲ(ဂ)

၇။ အဆိုပြုတည်ဆောက်မည့်မြေနေရာမှာ ပြည်ပစက်မှုနယ်မြေဖြစ်၍ စက်ရုံဆောက်လုပ်ရန်သင့်တော်မှုရှိပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် (Evaluation of environmental impact) နှင့်ပတ်သက်၍ Water Purification System နှင့် Waste Water Treatment System တို့ထည့်သွင်းဆောင်ရွက်မည်ဟု ဖော်ပြပါရှိပါသည်။

၈။ Sunjin Myanmar Co.,Ltd ၏ တိရစ္ဆာန် အစားအစာနှင့် ဆက်စပ်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် အောက်ပါအကျိုးကျေးဇူးများရ ရှိမည်ဖြစ်ပါသည်-

(က) ဒေသဖွံ့ဖြိုးရေးနှင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိမည်ဖြစ်ပြီး ခေတ်မီနည်းပညာများ တိုးပွားရရှိစေမည်ဖြစ်ပါသည်။

(ခ) တိရစ္ဆာန်အစားအစာနှင့်ဆက်စပ်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပဲခူးတိုင်းဒေသကြီးအတွင်းတွင် မွေးမြူရေးနှင့်ရေလုပ်ငန်းများကို အထောက်အကူပြုနိုင်မည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အနေဖြင့် မြေငှားရမ်းခ ရရှိခြင်းဖြင့် နိုင်ငံတော်အတွက် ဝင်ငွေရရှိနိုင်မည်ဖြစ်ပါသည်။

၉။ Sunjin Myanmar Co.,Ltd ၏တိရ စ္ဆာန်အစားအစာနှင့်ဆက်စပ်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းပြုရန် အဆိုပြုတင်ပြခြင်း အပေါ်သဘောထားမှတ်ချက် ပြန်ကြားရန် (၂၉-၇-၂၀၁၃)ရက်နေ့တွင် ပြုလုပ်သော မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနအလုပ်အမှုဆောင်ကော်မတီအစည်းအဝေး အမှတ်စဉ် (၂၉/၂၀၁၃)မှ သဘောတူခွင့်ပြုခဲ့ပါသည်။

နောက်ဆက်တွဲ(ဃ)

၁၀။ သို့ဖြစ်ပါ၍ Sunjin Myanmar Co.,Ltd မှ တိရစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြခြင်းအပေါ် အာဆီယံနိုင်ငံများ၏ သတ်မှတ်ချက်များနှင့်အညီ(G.M.P)စနစ်ဖြင့်ဆောင်ရွက်နိုင်ပါကမွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနမှကန့်ကွက်ရန်မရှိပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ပါမောက္ခဒေါက်တာမြင့်သိန်း၊ညွှန်ကြားရေးမှူးချုပ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူကို

(၁) ရုံးအဖွဲ့မှူး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
(၂) ညွှန်ကြားရေးမှူးချုပ်၊မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
(၃) Sunjin Myanmar Co.,Ltd
(၄) လက်ခံ
(၅) မျှော